




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၆၆......... / ၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးသန်းနိုင်ဦး......

(ခ) အဘအမည် ......ဦးခင်မောင်လတ်......

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ......၁၂ /အစန(နိုင်) ဝ၉၈၃၇၄......

(ဃ) နေရပ်လိပ်စာ ......၅ ခန်းတွဲ၊ ၁ လမ်း၊စဉ့်ငူရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ......ရန်ကုန်တိုင်းဒေသကြီး။......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......ထိပ်တန်း ပုံစံထုတ် ကုမ္ပဏီလီမိတက် ......(Lead Fashion Industry Co., Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......CMP စနစ်ဖြင့် အထည်အမျိုးမျိုး ......ချုပ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......မြေကွက်အမှတ်(၅–က)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ ......စက်မှုဇုန်(၁)၊လှိုင်သာယာမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၃၇.၈၉ (သန်း) (ကျပ်သုံးဆယ့်ခုနစ်သန်း၊ရှစ်သိန်း၊ ကိုးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၅၉ / ၂၀၁၀(မနသ)
ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၁၁ ရက်
(၂၀၁၀ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် ဦးသာခင်နှင့် ဦးတင်စိန် အမည်ဖြင့် မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့်ရရှိထားသော မြေကွက်အမှတ်(၅-က)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း ၊စက်မှုဇုန် (၁)၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး ရှိမြေ (၀.၈၀၇)ဧကအနက်မှ (၀.၅၉) ဧက နှင့် ယင်းမြေပေါ်ရှိ အနောက်ဘက်ခြမ်း၊ လက်ယာနှင့် လက်ဝဲဘက် အခြမ်းတို့ရှိ အဆောက်အဦ များအား ငှားရမ်း၍ CMP စနစ်ဖြင့် အထည် အမျိုးမျိုးချုပ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၈-၁၀-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၃၄/၂၀၁၀) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၁၃-၁၀-၂၀၁၀) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၃၂/၂၀၁၀) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူ ညီချက်အရ (၁၈-၁၁-၂၀၁၀) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၄၄/၂၀၁၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ် ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) အား CMP စနစ် ဖြင့် အထည်အမျိုးမျိုး ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၇၆၆/ ၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါ အဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုသည်။ ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ

လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဉာဏ်ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်း

သည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ကိုယ်ပိုင်နိုင်ငံခြားငွေ စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ (FCEC)သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၃။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၄။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေ နှင့် အဆောက်အဦ အငှားချထားသူ ဦးသာခင်နှင့် ဦးတင်စိန် တို့နှင့် နှင့် အငှားချထားခြင်း ခံရသူ ဦးသန်းနိုင်ဦး [ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.)]တို့ ချုပ်ဆိုမည့် မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၆။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များ ကို တိကျစွာ လိုက်နာ ဆောင်ရွက် ရမည်။

၇။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင် သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြား တင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရ မည်။

၈။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် အဆိုပြုချက်တွင် ဝန်ခံကတိပြုထားသည့် အတိုင်း ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက် ရမည်။

၁၀။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများ ကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီး မြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန များမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့ အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက် မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ-၁၀၆၈ / ၂၀၁၀( ၁၉၄၆၅ )

ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဒီဇင်ဘာ လ ၂ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၆။ လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၉။ ဆောက်လုပ်ရေး ဝန်ကြီးဌာန။

၁၀။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၃။ အလုပ်သမား ဝန်ကြီးဌာန။

၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၅။ ဥက္ကဋ္ဌ ၊CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ။(အမှတ်(၁)စက်မှုဝန်ကြီးဌာန)

၁၆။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၇။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၃၀။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ အထည်ချုပ် လုပ်ငန်းရှင်များ အသင်း၊ ရန်ကုန်။

၃၂။ အုပ်ချုပ်မှုဒါရိုက်တာ၊ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက် ( Lead Fashion Industry Co., Ltd.)

ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ရင်းနှီးမြှုပ်နှံ လိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်

**CMP** လုပ်ငန်း

xxxxxxxxxxxxxxxxxxxxxxxxxx

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN THE
UNION OF MYANMAR

LEAD FASHION INDUSTRY COMPANY LIMITED

CMP

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

---

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးအမှတ် (၃၂) ၊ နေပြည်တော်

နေ့စွဲ ။ ။ ၂၀၁၀ခုနှစ် ၊ ဇွန်လ (၂၂)ရက်

အကြောင်းအရာ။ ။ ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်(Lead Fashion Industry Co., Ltd)မှ CMPအထည်ချုပ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂. ၄. ၂၀၁၀)ရက်စွဲပါစာအမှတ် (၇က-၆(က)/မ-၁၀၆၈/၂၀၁၀(၅၁၈၂) (မိတ္တူ - ပူးတွဲ )

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၆. ၂၀၁၀)ရက်စွဲပါစာအမှတ် (၇က-၆(က)/မ-၁၀၆၈/၂၀၁၀(၅၅၁၁) (မိတ္တူ - ပူးတွဲ )

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀. ၅. ၂၀၁၀)ရက်စွဲပါစာအမှတ် (၇က-၆(က)/မ-၁၀၆၈/၂၀၁၀(၇၃၀၃) (မိတ္တူ - ပူးတွဲ )

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄. ၆. ၂၀၁၀)ရက်စွဲပါစာအမှတ် (၇က-၆(က)/မ-၁၀၆၈/၂၀၁၀(၈၀၃၁ -ဃ) (မိတ္တူ - ပူးတွဲ )

(၅) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၏ (၁. ၆. ၂၀၁၀) ရက်စွဲပါစာအမှတ် စီမံ /နဆစ/လသယ -၁၉၂/၂၀၁၀(၄၂၇) (မိတ္တူ - ပူးတွဲ )

(၆) နိုင်ငံခြားရေးဝန်ကြီးဌာန၏ (၂၄. ၅. ၂၀၁၀) ရက်စွဲပါစာအမှတ်-၃၂၃၇၂၇ (၁၆၃၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းချက်(၁)ပါစာဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုး ရေးဦးစီးဌာနမှ ရည်ညွှန်းချက်(၅)ပါစာဖြင့် CMPစံနစ်အရအထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန်အတွက် ငှားရမ်းထားသော မြေနှင့်စပ်လျဉ်း၍ မြေအမည်ပေါက်(၂)ဦးစလုံး (ဦးသာခင် + ဦးတင်စိန်)မှ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့စာဖြင့် ခွင့်ပြုချက်တင်ပြလျှောက်ထားရန်နှင့် မြေကွက်တောင်ဘက်ခြမ်း(၀. ၅၉)ဧကခန့်က ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်သို့ ဦးသာခင်မှငှားရမ်းခြင်းအတွက် ဦးတင်စိန်၏စာဖြင့်သဘောတူညီချက်တင်ပြရန် ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်သို့အ ကြောင်းကြားခဲ့ပါသည်။

၂။ ယင်းသို့အကြောင်းကြားလာချက်အရ မြေပိုင်ရှင်(၂)ဦးမှပူးတွဲ၍(၂၁. ၆. ၂၀၁၀)ရက်စွဲပါစာဖြင့် မြေကွက်တဆင့် ငှားရမ်းခြင်းအတွက်ခွင့်ပြုပေးပါရန် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနသို့လျှောက်ထားခဲ့ပြီး ဦးတင်စိန်မှလည်းမြေကွက် တောင်ဘက်ခြမ်း(၀. ၅၉)ဧကခန့်ကို ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်သို့ ဦးသာခင်ငှားရမ်းရာတွင်ကန့်ကွက်ခြင်းမရှိ ပါကြောင်းတို့ကို ၂၄. ၆. ၂၀၁၀ရက်နေ့တွင် တင်ပြခဲ့ပြီးဖြစ်ပါသည်။ (မိတ္တူများပူးတွဲတင်ပြအပ်ပါသည်။ )

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းချက်(၂)ပါစာဖြင့် အဆိုပြုလွှာအပေါ် စိစစ်တွေ့ရှိချက်များကိုပြန်လည်တင်ပြပေးရန်အကြောင်းကြားလာချက်အရ အောက်ပါအတိုင်းပြန်လည်တင်ပြအပ်ပါသည်။

(က) ပြည်ပမှဝယ်ယူမည့်စက်ပစ္စည်းများအတွက်"ရန်ကုန်ကြာပန်းအထည်ချုပ်ကုမ္ပဏီလီမိတက်"မှနိုင်ငံခြားငွေကို အသုံးပြုရန် သဘောတူကြောင်းယင်းကုမ္ပဏီ၏ BODအစည်းအဝေးဆုံးဖြတ်ချက်နှင့်နိုင်ငံခြားငွေစာရင်း ဘဏ်စာအုပ်မိတ္တူ

(ခ) ရန်ကုန်ကြာပန်းအထည်ချုပ်ကုမ္ပဏီလီမိတက်၏ နိုင်ငံခြားငွေစာရင်းမှ Transferပြုလုပ်၍သုံးမည်ဖြစ်ကြောင်း ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်၏ BOD အစည်းအဝေးဆုံးဖြတ်ချက်နှင့်ဘဏ်စာအုပ်မိတ္တူ

(ဂ) ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်မိတ္တူ ၊ ထ. သ. ကမိတ္တူ ၊ From 6 ,26 ၊ Investor ၏နိုင်ငံသားစိစစ်ရေးကဒ်ပြားမိတ္တူ ၊ UMFCCI အသင်းဝင်လက်မှတ်မိတ္တူ ၊ အထည်ချုပ်လုပ်ငန်းရှင်များအသင်းဝင်လက်မှတ်မိတ္တူ တို့ကိုပူးတွဲတင်ပြပါသည်။

(ဃ) လုပ်ငန်းခွင်သာယာရေးနှင့်အလုပ်သမားသက်သာချောင်ချိရေးအစီအစဉ်

(င) လုပ်ငန်းတွင်သုံးစွဲရန်အတွက်လုံလောက်သည့်ကျပ်ငွေအထောက်အထား(CB Bank Account No .0232 006482 ) မိတ္တူ

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းချက်(၃)ပါစာဖြင့် အဆိုပြုလုပ်ငန်း၏နှစ်စဉ်ထုတ်လုပ်မှုနှင့်စက်အင်အားအချိုးအစားညီမျှမှုမရှိခြင်းနှင့် ထုတ်လုပ်မှုပမာဏသည်တပ်ဆင်စက်စွမ်းအားထက်များနေခြင်းတို့နှင့်စပ်လျဉ်း၍ အမှတ်(၁) စက်မှုဝန်ကြီးဌာနနှင့်ဆက်သွယ်ညှိနှိုင်း၍ ပြန်လည်ပြုစုရေးဆွဲတင်ပြပြီးဖြစ်ပါသည်။(ပြင်ဆင်ပြီးအဆိုပြုချက်တစ်စုံကို ပူးတွဲတင်ပြအပ်ပါသည်။)

၅။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ရည်ညွှန်းချက်(၄)ပါစာဖြင့် Promega World Wide Inc Co., Ltd နှင့် စပ်လျဉ်း၍နိုင်ငံခြားရေးဝန်ကြီးဌာန၏ရည်ညွှန်းချက်(၆)ပါစာအရ စုံစမ်းခယူရှိငွေ(၄၅)ကို လန်ဒန်မြို့ ၊ မြန်မာသံရုံး၏ယူရှိငွေစာရင်းသို့လွှဲပြောင်းပေးပို့ရန် စီစဉ်ဆောင်ရွက်ပါကအချိန်ကြန့်ကြာနိုင်မည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာနိုင်ငံကုမ္ပဏီမှတ်ပုံတင်ရုံးမှထုတ်ပေးထားသောထောက်ခံချက်နှင့်သာ လက်ခံပေးပါရန်လေးစားစွာဖြင့်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



Lead Fashion Industry Co., Ltd.

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၂၀ ခုနှစ်၊ ဇွန် လ၊ (၂၂) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့်ပါတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်၏ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ အမှတ် (၅) (က) ရှိ (၀.၅၉) ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် CMP ဖြင့် ထုတ်လုပ်သည့် နိုင်ငံတကာ အဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အရည်အသွေး ကောင်းမွန်သော ချုပ်ပြီးအထည်များကို ထုတ်လုပ်ရောင်းချနိုင်ရန် အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန် (၁၃) စုံကို ပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ




ဦးသန်းနိုင်ဦး
မန်နေးဂျင်း ဒါရိုက်တာ
ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်
Managing Director
Lead Fashion Industry Co., Ltd.

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇွန် လ၊ ( ၂၂ ) ရက်။

အကြောင်းအရာ ။ ။ Account Transfer ဝယ်ယူမှုနှင့် ပတ်သက်၍ ရှင်းလင်းတင်ပြခြင်း။

အထက်ပါ အကြောင်းအရာနှင့်ပါတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်၏ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ အမှတ် (၅) (က) ရှိ (၀. ၅၉) ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် CMP ဖြင့် ထုတ်လုပ်သည့် နိုင်ငံတကာ အဆင့်မှီ စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အရည်အသွေး ကောင်းမွန်သော ချုပ်ပြီးအထည်များကို ထုတ်လုပ်ရောင်းချနိုင်ရန် အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ ကုမ္ပဏီသည် ခွင့်ပြုမိန့်ရရှိပြီးနောက် မိတ်ဆွေကုမ္ပဏီဖြစ်သော Yangon Lotus Garment Co., Ltd. ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၂၈၇/၁၉၉၉-၂၀၀၀ )၏ MICB ဘဏ်တွင် စာရင်းဖွင့်လှစ်ထားသော ဘဏ်စာရင်းအမှတ် FDY 10-0156 မှ Account Transfer ဖြင့် ကျွန်တော်တို့ ကုမ္ပဏီဖြစ်သော Lead Fashion Industry Co., Ltd. ၏ ဘဏ်စာရင်းအမှတ် MICB Bank A/c No. FDL 100254 သို့ လွှဲပြောင်း၍ စက်ပစ္စည်းများတင်သွင်းမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ပူးတွဲ - မိတ်ဆွေကုမ္ပဏီ၏ ကုမ္ပဏီကဒ်မိတ္တူ။
- Form 6, 26 Copy
- စက်မှု (၁) လုပ်ငန်းလိုင်စင် မိတ္တူ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ




ဦးသန်းနိုင်ဦး
မန်နေးဂျင်း ဒါရိုက်တာ
ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်

Managing Director
Lead Fashion Industry Co., Ltd.

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇွန် လ၊ (၂၂) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ ခွင့်ပြုမိန့်ထုတ်ပေးပါရန်နှင့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

၁။ အထက်ပါ အကြောင်းအရာနှင့်ပါတ်သက်၍ ကျွန်တော်၏ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ အမှတ် (၅) (က) ရှိ (၀.၅၉) ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံ တော်တွင် အရည်အသွေး ကောင်းမွန်သော ချုပ်ပြီးအထည်များကို ထုတ်လုပ်ရောင်းချနိုင်ရန် အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါ၍ ဥပဒေလိုအပ်ချက်များနှင့်အညီ စာချုပ်များကိုလည်းကောင်း၊ စီးပွားရေးအတွက် ခြေကိုက်မှုကိုလည်းကောင်း၊ တွက်ချက်၍ ပူးတွဲ တင်ပြအပ်ပါသည်။

၂။ ၎င်းအပြင်၊ ကျွန်တော်တို့အနေဖြင့် ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက် တည်ထောင်ပြီး ဖော်ပြပါ လုပ်ငန်းများ ဆောင်ရွက်ခြင်းဖြင့် အောက်ပါအခွင့်အလမ်းများရရှိပေါ် ပေါက်နိုင်ပါကြောင်း၊ တဆက်တည်း တင်ပြလိုပါသည်။

(က) အလုပ်အကိုင် အခွင့်အလမ်းများပေါ်ပေါက်လာမှု
(ခ) အမျိုးသားဝင်ငွေတိုးတက်ရရှိနိုင်မည့်အခြေအနေ
(ဂ) နိုင်ငံတော်ကရရှိမည့် ဘဏ္ဍာ ငွေအခြေအနေ
(ဃ) နိုင်ငံခြားသုံးငွေလျှော့နည်းသက်သာစေနိုင်မည့် အခြေအနေ
(င) ပြည်တွင်းပြည်ပ ဈေးကွက်ကို ပံ့ပိုးမှုပေးနိုင်မည့် အခြေအနေတို့ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်အနေနှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂နှင့် ၁၃အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ပါခွင့်ပြုနိုင်ပါရန် လျှောက်ထားတင်ပြအပ်ပါသည်။

၄။ ဤခွင့်ပြုချက်မိန့် တောင်းခံလွှာနှင့်အတူ အောက်ပါစာရွက်စာတမ်းများကိုပါ နောက်ဆက်တွဲအဖြစ်တင်ပြပါသည်။

နောက်ဆက်တွဲများ

(၁) ရင်းနှီးမြှုပ်နှံသူ၏ အဆိုပြုချက်၊
(၂) စီးပွားရေးတွက်ခြေကိုက်မှုရှိ မရှိတင်ပြချက်များ၊
(၃) ကုမ္ပဏီ၏ ငွေရေးကြေးရေး အထောက်အထားများ၊
(၄) တည်ဆောက်ပြီး နေရာပြ မြေပုံနှင့် ဆောက်လုပ်ပြီးအဆောက်အအုံဓာတ်ပုံများ၊

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ




ဦးသန်းနိုင်ဦး
မန်နေးဂျင်း ဒါရိုက်တာ
ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်
Managing Director
Lead Fashion Industry Co., Ltd.

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇွန် လ၊ (၂၂) ရက်။

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ ကတိခံဝန်ချက် ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့်ပါတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်၏ ထိပ်တန်းပုံစံထုတ် ကုမ္ပဏီ လီမိတက်သည် ရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန် (၁)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ အမှတ် (၅) (က) ရှိ (၀. ၅၉) ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် CMP စံနစ်ဖြင့် စက်ရုံတည်ထောင်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် အရည်အသွေး ကောင်းမွန်သော ချုပ်ပြီးအထည်များကို ထုတ်လုပ်ရောင်းချနိုင်ရန် အတွက် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ နိုင်ငံခြားသား မည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

၁။ မြေငှားရမ်းခြင်းနှင့် ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၂။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများနှင့် မီးဘေးအန္တရာယ် အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ် ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

၃။ အဆိုပြုလုပ်ငန်းဆောင်ရွက်မှုအတွက် နိုင်ငံခြားငွေဖြင့် ရရှိသောအခကြေးငွေများကို မြန်မာရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ကုမ္ပဏီ၏ငွေစာရင်းအမှတ် FDL – 10 0254သို့ မပျက်မကွက်ပေးသွင်းမည် ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

၄။ ယင်းသို့ပေးသွင်းသည့် နိုင်ငံခြားငွေများကို နိုင်ငံတော်မှ သတ်မှတ်ခွင့်ပြုထားသည့် ငွေလဲလှယ်ရေးဌာန (Money Changer Counter) တွင် လဲလှယ်ပြီး မိမိလုပ်ငန်းအတွက် အလုပ်သမားများအား လုပ်အားခများ ပေးဆောင်ရမည်ကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၅။ ဤအဆိုပြုလွှာသည် အမှတ် (၁) စက်မှုဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနမှထုတ်ပေးသော ပုဂ္ဂလိက စက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်မည်ဖြစ်ပါကြောင်း မှတ်ပုံတင်လက်မှတ်ရရှိပါက တင်ပြမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ




ဦးသန်းနိုင်ဦး
မန်နေးဂျင်း ဒါရိုက်တာ
ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်
Managing Director
Lead Fashion Industry Co., Ltd.



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
နေပြည်တော်။

စာအမှတ် ၊
ရက်စွဲ ။ ၂၀၁၀ ခုနှစ်၊ ဇွန် လ၊ ( ၂၂ ) ရက်။

ကျွန်တော် / ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးသန်းနိုင်ဦး |
| (ခ) | အဖအမည် | ဦးခင်မောင်လတ် |
| (ဂ) | အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/အစန (နိုင်) ၀၉၈၃၇၄ |
| (ဃ) | နေရပ်လိပ်စာ | ၅ခန်းတွဲ၊ ၁-လမ်း၊ စဥ့်ငူရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်။ |
| (င) | လူမျိုး၊ ဘာသာ | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | အထည်ချုပ်စက်ရုံ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်- ၅(က)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ စက်မှုဇုံ (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ --

| | | |
|---|---|---|
| (က) | အမည် | ---------------------------------- |
| (ခ) | အဖအမည် | ---------------------------------- |
| (ဂ) | နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | ---------------------------------- |
| (ဃ) | နေရပ်လိပ်စာ | ---------------------------------- |

(င) လူမျိုး၊ ဘာသာ ----------------------------------

(စ ) အဖွဲ့အစည်းအမည် ----------------------------------

(ဆ) လုပ်ငန်းအမျိုးအစား ----------------------------------

(ဇ ) အဖွဲ့အစည်းတည်ရှိရာအရပ် ----------------------------------

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား ---

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း အထည်ချုပ်လုပ်ငန်း ( CMP စံနစ်ဖြင့်)

(ခ ) ဝန်ဆောင်မှုလုပ်ငန်း ----------------

၄။ လုပ်ကိုင်မည့်စီးပွားရေး ပုံစံ--

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း လီမိတက် ကုမ္ပဏီ

---------------------------- နောက်ဆက်တွဲဇယား (၁) ------------------

(ခ ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း

------------------------------------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ်ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန် -

(က) တစ်ဦးတည်းပိုင် ----------------------------------------------------

(ခ ) ဖက်စပ်/အစုစပ်လုပ်ငန်း ---------------------------------------------

(ဂ ) လီမိတက်ကုမ္ပဏီ ----------- ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်
နောက်ဆက်တွဲဇယား (၁)

(ဃ) သမဝါယမအသင်း ---------------------------------------------------

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင် ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်း အမျိုးအစား၊ စီမံခန့်ခွဲသူ/ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်ဝင်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ ------------------------------

(ခ ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ------------------------------

(ဂ) အစုစပ်ဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ ------------------------------

၇။ သမဝါယမအသင်း / လီမိတက် ကုမ္ပဏီပုံသဏ္ဍာန်ဖြစ်ပါက --

(က) ခွင့်ပြု မတည်ငွေရင်း ကျပ် ၅၀၀,၀၀၀,၀၀၀ (ကျပ်သန်းငါးရာ)

(ခ ) အစုရှယ်ယာအမျိုးအစားများ တစ်စုလျှင် ကျပ် ၁၀,၀၀၀/- အစုရှယ်ယာ (၅၀၀၀)

(ဂ ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ ------ ကျပ် ၅၀,၀၀၀,၀၀၀

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်း ပမာဏ (ကျပ်)

| | | (ထောင်ပေါင်း) | |
|---|---|---|---|
| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ (ဒေါ်လာ) | စုစုပေါင်း (ကျပ်) |
| (၁) ငွေပမာဏ | ၅၀၀၀. ၀၀ | | ၅၀၀၀. ၀၀ |
| (၂) စက်ပစ္စည်းကိရိယာများတန်ဘိုးပမာဏ | | | |
| (က) ပြည်တွင်းဝယ်စက်ပစ္စည်း (နဆတ-၃-အေ) | ၂၀၉၉၀. ၀၀ | | ၂၀၉၉၀. ၀၀ |
| (ခ) ပြည်ပဝယ်စက်ပစ္စည်း (US$ 25,450.00) (နဆတ-၃) | | ၂၅. ၄၅ | ၁၅၂. ၇၀ |
| (၃) အဆောက်အအုံ (ပြင်ဆင်စရိတ်) | ၃၀၀၀. ၀၀ | | ၃၀၀၀. ၀၀ |
| (၄) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ နောက်ဆက်တွဲ (၄) | ၈၇၅၀. ၀၀ | | ၈၇၅၀. ၀၀ |
| ပေါင်း | ၃၇၇၄၀. ၀၀ | ၂၅. ၄၅ | ၃၇၈၉၂. ၇၀ |

တည်ထောင်မှုနှင့် ဖြစ်နိုင်ခြေလေ့လာချက်ဇယား အရ ရင်းနှီးမြှုပ်နှံမှု အသေးစိတ်စာရင်းဖော်ပြထားပြီး ၄င်းတန်ဖိုး စုစုပေါင်းမှ နောက်ဆက်တွဲ (၃) အရစက်ပစ္စည်းများကို ပြည်ပမှတင်သွင်းမည် ဖြစ်ပါသည်။

(ခ) နိုင်ငံခြားမှ တင်သွင်းမည့်ပစ္စည်း

| | ကျပ် | အမေရိကန်ဒေါ်လာ (ထောင်ပေါင်း) |
|---|---|---|
| (၁) တည်ဆောက်ပစ္စည်း | - | - |
| (၂) စက်ပစ္စည်းများ၊ စက်ကိရိယာများ တို့၏ တန်ဘိုးပမာဏပေါင်း | ၁၅၂. ၇၀ | ၂၅. ၄၅ |
| ပေါင်း | ၁၅၂. ၇၀ | ၂၅. ၄၅ |

(ဂ) တည်ဆောက်မှုကာလ - (၁)လ

(ဃ) ပမာဏ စူးစမ်း လေ့လာမှုပြုလုပ်မည့်ကာလ - (၁)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် - ခွင့်ပြုမိန့်ရပြီး (၁)လအတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား — CMP စနစ်ဖြင့်အထည်ထုတ်လုပ်ခြင်းလုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ — အမှတ်- ၅(က)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊ စက်မှုဇုံ (၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် — CMP စနစ်ဖြင့် ဆောင်ရွက်ခြင်း။

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် -

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ------ဒီဇယ်------------------ | ------၁၈၆၀၀ ဂါလံ-------- |
| ၂။ ------ဓါတ်ဆီ---------------- | -------------------------- |
| ၃။ -----စက်ဆီ ၊ ချောဆီ--------- | ------၂၄၀ ဂါလံ----------- |

(င) နှစ်စဉ် လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓတ်အား | ------၇၀၀၀ KW------------- |
| ၂။ ဓတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | --------၃၀၀ KVA----------- |
| ၃။ ဘွိုင်လာ အသုံးပြုအင်ဂျင်စက်အား | --------၁၆ KVA------------ |
| ၄။ သဘာဝဓတ်ငွေ့ သုံးစက်အား | ------------------------------ |
| ၅။ ပေးပို့သည့် အခြားအား (ရေအား/လေအား စသည်များ) | ----------------------------- |

(စ) နှစ်စဉ်ရေလိုအပ်ချက် — -------၁၅၀၀၀ ဂါလံ-------

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် ဖြစ်နိုင်ခြေဇယား ဖော်ပြပါသည်။

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၁။ အဓိကုန်ကြမ်း | | | |
| (၁) ----------- | ---------- | ------------- | ---------- |
| (၂) ----------- | ---------- | ------------- | ---------- |

(နောက်ဆက်တွဲဇယား (၈)ဖြင့်ဖော်ပြထားပါသည်။)

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ---------- | ------------ | ---------- | ----------- |
| (၂) ---------- | ------------ | ---------- | ----------- |
| ၃။ စက်သုံးဆီ/ဓတ်ငွေ့များ | | | |
| (၁) ---------- | ------------ | ---------- | ----------- |
| (၂) ---------- | ------------ | ---------- | ----------- |

(ဇ) အဆောက်အဦးလိုအပ်ချက်

၃ထပ်ဆောင် အလျား ( ၅၀' ) x အနံ ( ၄၀' )

အလုပ်ဆောင် အလျား ( ၉၀' ) x အနံ ( ၄၆')

ရုံးခန်း အလျား ( ၃၀' ) x အနံ ( ၅၀' )

ဂိုဒေါင် အလျား ( ၂၀' ) x အနံ ( ၃၅' )

(ဈ) မြေနေရာ အမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် စက်မှုဇုံပိုင်မြေ (၀. ၅၉ ဧက)

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု ဖြစ်နိုင်ခြေဇယား (၂) တွင် ဖော်ပြပါသည်။

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| --------------- | ------------- | --------------- | --------------- |
| --------------- | ------------- | --------------- | --------------- |

(၄) ရောင်းချမည့် နည်းစနစ် . . CMP စနစ်ဖြင့် ၉၉%၊ ပြည်တွင်းရောင်းချမှု ၁% မှ ဝင်ငွေများရရှိမည် ဖြစ်ပါသည်။

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ-

| | | ကျပ်ငွေ (ကျပ်ထောင်ပေါင်း) |
|---|---|---|
| (က) | လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | နောက်ဆက်တွဲဇယား (၅) |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား (၅) |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား (၇) |
| (ဃ) | ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | ဖြစ်နိုင်ခြေဇယား (၇) |
| (င) | နှစ်စဉ်ပြည်တွင်း၌ တင်ပို့ရောင်းချနိုင်မည် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | ဖြစ်နိုင်ခြေဇယား (၇) |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးအဖွဲ့အစည်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း -

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ- နောက်ဆက်တွဲဇယား ( ၂ ) အရ (၂၂၈) ဦးခန့်ထားပါမည်။

၁၂။ စီးပွားရေး တွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | | |
|---|---|---|
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ (၁၂) |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ (၁၂) |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ (၁၂) |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြုပ်နှံမှု | နောက်ဆက်တွဲ (၁၃) |
| (င) | အရင်းကျေကာလ | ( ) နှစ်နှင့် ( ) လအတွင်း |
| (စ) | အခြား အကျိုးအမြတ်များ | နောက်ဆက်တွဲ (၁၅) ဖြင့်ဖော်ပြပါသည်။ |
| (ဆ) | အလုပ်အကိုင်သစ်များပေါ်ပေါက်မည့် | အလုပ်အကိုင်သစ် (၂၂၈) နေရာပေါ်လာပါမည်။ |

ပူးတွဲတင်ပြအပ်ပါသည်-

(က) ပဋိညာဉ်စာချုပ်မူကြမ်း၊ မြေငှါးစာချုပ်မိတ္တူ၊ မြေပုံ၊
(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ
(ဂ) ကုမ္ပဏီသင်းဖွဲ့ မှတ်တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းမူကြမ်းများ။




လက်မှတ် ၊
အမည် ၊ ဦးသန်းနိုင်ဦး
မန်နေးဂျင်းဒါရိုက်တာ
ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်
Managing Director
Lead Fashion Industry Co., Ltd.

**ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်**
**ဒါရိုက်တာများစာရင်း**

| စဉ် | အမည် | လူမျိုး နှင့် မှတ်ပုံတင်အမှတ် | ရာထူး | အစုရှယ်ယာ | နေရပ်လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဦးသန်းနိုင်ဦး | မြန်မာ<br>၁၂/အစန(နိုင်)<br>၀၉၈၃၇၄ | မန်နေဂျင်းဒါရိုက်တာ | ၃၀၀၀ | ၅ခန်းတွဲ၊ ၁-လမ်း၊ စဉ့်ငူရပ်ကွက်၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်း။ |
| ၂။ | ဦးအောင်တင့်လွင် | မြန်မာ<br>၁၂/အစန(နိုင်)<br>၁၃၁၆၇၄ | ဒါရိုက်တာ | ၂၀၀၀ | အမှတ်(၉/၁၁၉)၊ကံဦးကျောင်းလမ်း၊ဖော့ကန်ရပ်ကွက်၊အင်းစိန်မြို့နယ်၊ရန်ကုန်တိုင်း၊ |

Annexure-2

အလုပ်အကိုင်ရရှိမှု (ပထမနှစ်)

| | |
|---|---|
| နိုင်ငံခြားသားပညာရှင် | အရေအတွက် |
| ကျွမ်းကျင်ပညာရှင် | ၂ |
| | ၂ |

နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင်များအစား လုပ်ငန်းတတ်ကျွမ်းသော မြန်မာနိုင်ငံသားများကို တတိယနှစ်မှစ၍ အစားထိုးခန့်ထားမည် ဖြစ်ပါသည်။

| မြန်မာတိုင်းရင်းသား | အရေအတွက် |
|---|---|
| စက်ရုံမှူး | ၁ |
| စာရင်းအရာရှိ | ၁ |
| စီမံ ခန့်ခွဲရေးအရာရှိ | ၁ |
| ရုံးဝန်ထမ်း | ၈ |
| ဒု-ကျွမ်းကျင်ပညာရှင် | ၂ |
| ကြီးကြပ်ရေးမှူး | ၆ |
| ဒု-ကြီးကြပ်ရေးမှူး | ၈ |
| ကျွမ်းကျင်လုပ်သား | ၁၄၀ |
| သာမန်လုပ်သား | ၅၀ |
| လုံခြုံရေး | ၄ |
| ဒရိုင်ဘာ | ၃ |
| သန့်ရှင်းရေး | ၄ |
| ပေါင်း | ၂၂၈ |
| စုစုပေါင်း | ၂၃၀ |

**LEAD FASHION INDUSTRY CO., LTD**

**LIST OF MACHINERIES AND EQUIPMENT (To be imported)**

Annexure (3)

| Sr No | Particulars | A/U | Qty | Price US$ | Value in US$ |
|---|---|---|---|---|---|
| 1 | Single Needle Sewing Machine (JK-8000) | Set | 45 | 180 | 8100 |
| 2 | Single Needle Sewing Machine (half automatic)W-2 | Set | 12 | 300 | 3600 |
| 3 | Overlock Sewing Machine (JK-795-4) | Set | 30 | 280 | 8400 |
| 4 | Feeb-on Type Cylinder-bed Machine(JK-8668) | Set | 9 | 550 | 4950 |
| 5 | Snap Machine (half automatic) | Set | 4 | 100 | 400 |
| | **TOTAL** | | **100** | | **25,450** |




ဦးသန်းနိုင်ဦး
မန်နေဂျင်းဒါရိုက်တာ
ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်
Managing Director
Lead Fashion Industry Co., Ltd.

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE LABEL နှစ်ဆယ်ကျပ် TWENTY KYATS

အထူးကပ်တံဆိပ်ခေါင်း SPECIAL ADHESIVE LABEL နှစ်ဆယ်ကျပ် TWENTY KYATS



# မြေငှားစာချုပ်

3 [illegible] MAY 199[illegible]

၁၉ ___ ခုနှစ်၊ (မြေငှား) အမှုတွဲ အမှတ် ________ / ________ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ" ဟုရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ________ မြို့နေ၊ ဦး ________ ၏၊ သား / သမီး ဖြစ်သော ဦး / ဒေါ် ________ အမျိုးသားမှတ်ပုံတင်အမှတ် ________ (နောက်တွင် "အငှား စာချုပ်ရသူ" ဟုရည်ညွှန်းသည်။) တို့၊ ၁၃ ___ ခုနှစ်၊ ________ လဆန်း / လပြည့်ကျော် ________ ရက်နေ့၊ ၁၉ ________ ခုနှစ်၊ (________ လ ________ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက် အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြား အခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်/မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို ထိခိုက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအားသင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ________ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြား အတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ________ ခုနှစ် ________ လ ________ ရက်နေ့၌ကုန်ဆုံးသည့် ပထမတစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ________ ပြား ________ ( ________ ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက် နေ့တွင် လည်းကောင်း၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင် ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလ အပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊ စတုတ္ထတစ်ဆယ့် ငါးနှစ်အတွက် အပိုဒ် ၃–တွင် ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအားသတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။




23 JUN 200

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်ထားသည့် နေ့ရက်များတွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အဆိုပါမြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌သော်လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း အဆိုပါ နှစ်ခြောက်ဆယ် ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ စည်းကြပ်လတ္တံ့ ဖြစ်သော အခွန်အတုတ်အားလုံးကို ပေးဆောင်ရန်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ၆–လအတွင်း စတင်ဆောက်လုပ်၍ နှစ်နှစ်အတွင်း အဆိုပါမြေကွက်ပေါ်၌ ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်၊ ဒေသန္တရအာဏာပိုင်နှင့်သက်ဆိုင်သည့်တရားဥပဒေများနှင့် အညီ၊ ပြီးစီးအောင်ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ်စသည်တို့ကို အဆိုပါနှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြားအတွင်း ပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက်တည်ရှိသော ရပ်ကွက်၌သက်ဆိုင်ရာဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်နှင့်ရေပိုက်များ ချထားလျှင်၊ ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့်တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ်၌ ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) သက်ဆိုင်သော ဒေသန္တရအာဏာပိုင်က ခွင့်ပြုသော အဆောင်ခွဲနှင့် အလုပ်သမားတန်းလျားများမှအပ အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံတစ်ခုထက်ပို၍ မဆောက်လုပ်ရန်။

(င) အငှားချထားသူ၏ စာဖြင့် သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ၊ နှစ်ပေါင်းခြောက်ဆယ်ကာလအပိုင်းအခြားအတွင်းအဆိုပါ မြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက် မှတစ်ပါး၊အခြားကိစ္စအတွက် အသုံးပြုရန်နှင့် အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်သည့် လူနေအိမ်ကို လူနေအိမ်အဖြစ်မှ တစ်ပါး အခြားနည်း အသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ၊ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်ပြင် ၄င်းမြေတစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တစ်ဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများမပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့်စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို၊ အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသောအဆောက်အအုံသို့ဖြစ်စေ၊နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြားတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ခင်းသင့်တော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်းခြောက်ဆယ်ကာလ အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါမြေကွက်တည်ရှိသည့် အဆောက်အအုံ၊ထိုအဆောက်အအုံနှင့် အမြဲတွဲကပ်ထားသော ပစ္စည်းမပါဝင်စေဘဲ၊ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်။ သို့ရာတွင် အငှားချထားသူက အပိုဒ် ၂–အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသောပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာ ပြန်လည်ပေးအပ်ရန်။

## အပိုပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၁၉၉၂ ခုနှစ် အတွင်းတွင် ဖြစ်စေ ထိုနောက် အချိန်ကာလတွင် ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါ မြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို သို့တည်းမဟုတ် ၄င်း၏ အစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယလ ဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခ မပြေကျန်ရှိလျှင် သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင် ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များ အတိုင်း လိုက်နာဆောင်ရွက် ရန်ပျက်ကွက်လျှင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်သည် အဆိုပါ မြေငှားခကို ရယူရန် ချက်ချင်း အမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံ ချက်ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊အဆိုပါမြေကွက်ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ စွန့်လွှတ်ခဲ့စေကာမူ ဤစာ ချုပ်ကို ပယ်ဖျက်၍အဆိုပါ မြေကွက်နှင့်ထိုမြေကွက်ပေါ်တွင်တည်ရှိသော အဆောက်အအုံများ၊ ထိုဆောက်အအုံများနှင့် အမြဲတွယ် ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည်။

(က) အပိုဒ် ၂-အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ္စတြီပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက် စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂-အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( [illegible] )ခုနှစ်၊ ______ လ၊ ( [illegible] )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄-အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့် ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄-အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထား သည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အတူ ပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လ အတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

ဤစာချုပ်ပါစကားရပ်များကိုသိရှိနားလည်ကြပြီးဖြစ်သဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့် ညွှန်ကြားရေးမှူးတို့ရှေ့တွင် ဦးစီးဌာနတံဆိပ်ကိုခပ်နှိပ်၍ အဆိုပါညွှန်ကြားရေးမှူးချုပ်နှင့်အဆိုပါ ______ သည် ဤစာချုပ်ကိုအထက်၌ဖော်ပြခဲ့သည့်နေ့တွင် လက်မှတ် ရေးထိုးကြကြောင်း။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန

မြို့ -

တံဆိပ်ကို ညွှန်ကြားရေးမှူးချုပ် ______ တံဆိပ် ______

ညွှန်ကြားရေးမှူးချုပ်

ဒုတိယညွှန်ကြားရေးမှူးချုပ် ______ ______

ဒုတိယညွှန်ကြားရေးမှူးချုပ်

နှင့် ညွှန်ကြားရေးမှူး ______ တို့
ရှေ့မှောက်၌ ခပ်နှိပ်၍ အဆိုပါ
ညွှန်ကြားရေးမှူးချုပ်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်နှင့်
ညွှန်ကြားရေးမှူးတို့လက်မှတ် ရေးထိုးသည်။

______

ညွှန်ကြားရေးမှူး

**အသိသက်သေ။**

ဒုတိယညွှန်ကြားရေးမှူး (မြေနှင့်အခွန်) ______

အငှားစာချုပ်ရသူ ______ က
လက်မှတ်ရေးထိုးသည်။

______

အငှားစာချုပ်ရသူ

**အသိသက်သေ။**

၁။ ______

၂။ ______

**အထက်တွင် ရည်ညွှန်းထားသည့် မြေ**

ခွင့်ပြုပြီးမြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ______
မြေတိုင်းရပ်ကွက်အမှတ် ______
ရန်ကုန်မြို့ ______ မြို့နယ်။

အတွင်းရှိ ______ တန်းစား၊ မြေကွက်အမှတ် ______
ဖြစ်သည်။ ပူးတွဲပါ မြေပုံ၌ မင်နီဖြင့် ပြထားသော အလျား ______ ပေ၊ အနံ ______ ပေခန့်ရှိသော အလား အလာ
အရှေ့လားသော် ______
အနောက်လားသော် ______
တောင်လားသော် ______
မြောက်လားသော် ______
အတွင်းရှိ မြေအားလုံး ဧရိယာ ______ ဧက၊ (စတုရန်းပေ ______)



## ရန်ကုန်မြို့တော်

အိုးအိမ်ပုံစံ

အကက်စ် – ၂၂



မြို့နယ်၊ လူနေရပ်ကွက်အမှတ် ...................................................

................................ မှ မြေကွက်အမှတ် .................................. ၏

၁ လက်မလျှင် ...... ပေစကေး




## ရည်ညွှန်းချက်

................ ဧရိယာ

စတုရန်းပေ ....................

ဧက ....................

ပုံကူးစာရေး

မြေတိုင်း (၃)

မြေတိုင်း (၂)

ဦးစီးအရာရှိ

မြေတိုင်းဌာနခွဲ

မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

နေ့စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဇွန် လ၊ (၂၂) ရက်။

# မီးဘေးကြိုတင် ကာကွယ်မှုစီမံချက်

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် လျှောက်ထားသည့် ထိပ်တန်းပုံစံထုတ် ကုမ္ပဏီလီမိတက်၏ မီးဘေးကာကွယ်ရေးကိစ္စနှင့် စပ်လျဉ်း၍ ကျွန်တော်များအနေနှင့် အောက်ပါအတိုင်း ကြိုတင် ကာကွယ်ရေးအစီအစဉ်ရေးဆွဲထားပါသည်။

၁။ စက်ရုံဝင်းအတွင်း ရေကန်ထားရှိမှုကို ရေဂါလံ (၂၀၀၀) ဆံ့သော ရေကန် (၂) ကန်ထားရှိပါမည်။

၂။ မီးသတ်ဘူးများကိုလည်း တစ်ဘူးနှင့် တစ်ဘူးကို ၁၀ ပေ အကွာတွင် ထားရှိပါမည်။

၃။ သဲပုံး၊ ရေပုံး၊ မီးချိတ်၊ မီးကဒ်များကိုလည်း အဆင်ပြေအောင်ထားရှိပါမည်။

၄။ စက်ရုံမှထွက်ရှိလာသော အမှိုက်များကိုလည်း ကန်ဆောက်၍ စနစ်တကျသိမ်းဆည်းထားရှိပါမည်။

၅။ မီးသတ်ဦးစီးဌာနမှ ပို့ချသော သင်တန်းများကိုလည်း ဝန်ထမ်း (၁၀) ဦးအား စေလွှတ်၍တက်ရောက်စေပါသည်။

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

## လုပ်ငန်းခွင်သာယာရေးနှင့်အလုပ်သမားသက်သာချောင်ချိရေးအစီအစဉ်
## (Lead Fashion Industry Co., Ltd )

၁။ စက်ရုံတွင်ရေချိုးခန်းများနှင့်အိမ်သာများကိုလုံလုံလောက်လောက်စီစဉ်ပေးထားပါသည်။

၂။ စက်ရုံအတွင်းဆေးခန်းမဖွင့်ထားပါ။အရေးပေါ်ဆေးဝါးများ(သောက်ဆေး ၊လိမ်းဆေး )ပြည့်စုံစွာထားရှိပါသည်။

၃။ စက်ရုံအတွင်းထိခိုက်ဒဏ်ရာရပါက ဆေးရုံ ၊ဆေးပေးခန်းများသို့ပို့ပေးပါသည်။ကုန်ကျသည့်ငွေကြေးပမာဏအားစက်ရုံမှပေးပါသည်။

၄။ ဝန်ထမ်း Ferry ကြို /ပို့လုပ်ပေးပါသည်။

၅။ သာရေး ၊ နာရေး ကိစ္စများပေါ်ပေါက်ပါကပံ့ပိုးကူညီပေးမှုများလည်းရှိပါသည်။

၆။ ထမင်းမကျွေးပါ။ထမင်းဖိုးပေးပါသည်။

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးအမှတ် (၃၂)၊ နေပြည်တော်။

နေ့စွဲ ။ ။ ၂၀၁၀ခုနှစ်၊ ဇွန်လ (၂၁)ရက်

အကြောင်းအရာ ။ ။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုနှင့်ပတ်သက်၍ရှင်းလင်းတင်ပြခြင်း။

ကျွန်တော်တို့ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်(Lead Fashion Industry Co., Ltd ) မှရန်ကုန်တိုင်း၊ ရန်ကုန်မြို့ ၊လှိုင်သာယာမြို့နယ် ၊လှိုင်သာယာစက်မှုဇုန် (၁)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း ၊အမှတ် (၅-က) ရှိမြေနှင့်အဆောက်အအုံတို့ကို ငှားရမ်း၍ CMPစနစ်ဖြင့်အထည်ချုပ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်ကိုလျှောက်ထားခဲ့ပါသည်။

ထိုသို့လျှောက်ထားခဲ့ရာတွင် လုပ်ငန်းအတွက်လျှပ်စစ်ဓါတ်အားတစ်နှစ်(7000) KWလိုအပ်လျက်ရှိပါသည်ဟုလျှောက်ထားခဲ့သော်လည်း (500) KVAထရန်စဖော်မာတပ်ဆင်ပြီးသားဖြစ်ခြင်းနှင့် နောင်တွင်လည်း Generator ထပ်မံဝယ်မည့်အစီအစဉ်ရှိပါသဖြင့် လျှပ်စစ်ဓါတ်အားသုံးစွဲမှုလုံလောက်ပါကြောင်းရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်



Than Naing Oo
Managing Director
Lead Fashion Industry Co., Ltd

# LEAD FASHION INDUSTRY COMPANY LIMITED

No.5/A,Pun Hlaing Golf Course Street, Industrial Zone (1), Hlaing Thar Yar Township, Yangon.
Ph: 684329

**Lead Fashion Industry Co.,Ltd**

**ဒါရိုက်တာအစည်းအဝေးမှတ်တမ်း**

ကျင်းပသည့်နေ့ ။ ။ ဧပြီလ(၂၂)ရက် ၊ ၂၀၁၀ခုနှစ်
ကျင်းပသည့်အချိန် ။ ။ နံနက် (၈ း ၀၀ )နာရီ
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံးခန်း

အစည်းအဝေးတက်ရောက်သူများ

(၁) ဦးသန်းနိုင်ဦး မန်နေဂျင်းဒါရိုက်တာ
(၂) ဦးအောင်တင့်လွင် ဒါရိုက်တာ

(၁) အစည်းအဝေးအထမြောက်မှု

ဒါရိုက်တာများအားလုံးတက်ရောက်သည့်အတွက်အစည်းအဝေးအထမြောက်ပါသည်။

(၂) သဘာပတိ

အစည်းအဝေးတွင်ဦးသန်းနိုင်ဦးမှသဘာပတိအဖြစ်ဆောင်ရွက်ပြီး အဖွင့်အမှာစကားပြောကြားပါသည်။

(၃) ဆွေးနွေးဆုံးဖြတ်ချက်

ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်၏ပြည်ပမှဝယ်ယူမည့် စက်ပစ္စည်းများအတွက်ရန်ကုန်ကြာပန်းအထည်ချုပ်ကုမ္ပဏီလီမိတက်၏နိုင်ငံခြားငွေစာရင်းအမှတ် FDY – 10 – 156 မှနိုင်ငံခြားငွေကို Account Transferပြုလုပ်ရန်နှင့် MICတင်ပြရန်ဒါရိုက်တာအားလုံးမှ သဘောတူညီပါကြောင်းဆွေးနွေးဆုံးဖြတ်ကြပါသည်။

(၄) သဘာပတိမှအစည်းအဝေးအပိတ်အမှာစကားပြောကြားပြီး အောင်မြင်စွာဖြင့်အစည်းအဝေးကိုရုပ်သိမ်းလိုက်သည်။




အတည်ပြုသူ

Managing Director
Lead Fashion Industry Co., Ltd.

ရန်ကုန်
ဧပြီလ (၂၂)ရက် ၊ ၂၀၁၀ခုနှစ်



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၄၄၉ / ၂၀၀၈ - ၂၀၀၉

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ထိပ်တန်း ပုံစံထုတ် ကုမ္ပဏီ လီမိတက်

အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၉ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၁၀ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ဝင်းစိုး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL, PRODUCTION

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

## CERTIFICATE OF INCORPORATION

NO. 1449 of 2008 - 2009

I hereby certify that LEAD FASHION INDUSTRY COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this TENTH day of FEBRUARY, TWO THOUSAND AND NINE.

[illegible]
စက်မှုလက်မှုဇုန်တွင် ဖြစ်စေရမည်
(သို့မဟုတ်) [illegible]
[illegible]

KHIN SOE
DIRECTOR GENERAL
Directorate of Investment And Company Administration
Registrar of Joint Stock Companies
Companies Registration Office

ထပ်တန်း ပုံစံ

| | |
|---|---|
| 1. Name and Address of Enterprise<br>လုပ်ငန်းအမည်နှင့် လိပ်စာ<br>LEAD FASHION INDUSTRY CO,LTD.<br>~~NO.155,TWIN THIN TIKE WUN U TUN NYO STREET,ZONE(1),HLAING THAR YAR T/S,YANGON.~~ | 4. Registration No. & Date 20 \| 2 \| 2009<br>ကြီးကြပ်အမှတ်နှင့် နေ့စွဲ<br>25000<br>Union of Myanmar<br>Ministry of Commerce<br>Directorate of Trade<br>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ<br>စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန<br>CERTIFICATE OF EXPORTER/IMPORTER REGISTRATION<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ် |
| 2. Contact No. ဆက်သွယ်ရန်<br>Telephone No. တယ်လီဖုန်းနံပါတ် / Fax No. ဖက်စ်နံပါတ် / Telex No. တယ်လက်စ်နံပါတ် | |
| 3. Business Registration No. 1419/08-09(10-2-09)<br>လုပ်ငန်းမှတ်ပုံတင်အမှတ် | Note: ☐ Please tick ( ✓ ) where applicable<br>သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ |

5. Type of Business လုပ်ငန်းအမျိုးအစား

☐ a) Sole Proprietorship တစ်ဦးတည်းပိုင်  ☐ b) Partnership အစုစပ်  ☑ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ/ နိုင်ငံခြား)  ☐ d) Co-operative Society သမဝါယမအသင်း

☐ e) Others (please specify) INDUSTRIAL,PRODUCTION
အခြား (ဖော်ပြရန်) ကျောဘက်ပါလုပ်ငန်း (၄) မျိုး ဆောင်ရွက်ခွင့်ရှိသည်။

6 Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for 6-MONTH year(s) up to 19-2-2009 TO 18-8-2009
မှတ်ပုံတင်သက်တမ်း နှစ် နေ့ထိ

CHANGE OF ADDRESS
NO.(5/A),PUN HLAING GOLF COURSE STREET,INDUSTRIAL ZONE (1), HLAING THARYAR T/S,YANGON.

For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ညွှန်ကြားရေးမှူး)




Stamp
(ဒုတိယညွှန်ကြားရေးမှူး)

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

(1) 19-8-2009 up to 9-2-2011
နေ့မှ ထိ
(ဒုတိယညွှန်ကြားရေးမှူး)

(2) ........ up to ........
နေ့မှ ထိ

(3) ........ up to ........
နေ့မှ ထိ



ပြည်ထောင်စုမြန်မာနိုင်ငံ
ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
The Union of Myanmar Federation of Chambers of Commerce and Industry
အမှတ် ၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။
၁၉၁၉ ခုနှစ်တွင်တည်ထောင်သည်။

# အသင်းဝင်လက်မှတ်

## Certificate of Membership

၁။ အသင်းဝင်အမည်နှင့်လိပ်စာ
ထိပ်တန်းပုံစံထုတ်ကုမ္ပဏီလီမိတက်
အမှတ် (၅/အေ)၊ ပန်းလှိုင်ဂေါက်ကွင်းလမ်း၊
စက်မှုဇုန်(၁)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

1. Name and Address of Member
Lead Fashion Industry Company Limited
No.( 5/A ), Pun Hlaing Golf Course Street,
Industrial Zone(1), hlaing Thar Yar Township,
Yangon

၂။ ဆက်သွယ်ရန်နံပါတ် (ဖုန်း/ဖက်စ်/အီးမေးလ်)
ဖုန်း ၉၅-၁-၆၈၄၃၂၉
ဖက်စ် -
အီးမေးလ် -

2. Contact Number (Tel:/Fax/Email)
Tel 95-1-684329
Fax -
E-mail -

၃။ အသင်းဝင်အမှတ်နှင့်ရက်စွဲ
၁၈၃၉၃ / (၂၃-၄-၂၀၀၉)

3. Membership Registration No and Date
18393 / ( 23-4-2009 )

၄။ လုပ်ငန်းမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ
၁၄၄၉ / ၂၀၀၈-၂၀၀၉

4. Business Registration No and Date
1449 / 2008-2009

၅။ လျှောက်ထားသူ၏အမျိုးသားမှတ်ပုံတင်အမှတ်

5. National Registration No. of Applicant
-

၆။ လုပ်ငန်းအမျိုးအစားသက်ဆိုင်ရာ
(အကွက်ကိုအမှတ်အသားပြုပါ)

6. Type of Business
(Please tick here ☑ applicable)

☐ Sole Proprietorship ☐ Partnership ☑ Limited Co [Myanmar (or) Foreign]
☐ Cooperative Society ☐ Individual ☐ Others (Please specify)

၇။ အထက်ဖော်ပြပါကုမ္ပဏီ/လျှောက်ထားသူသည် UMFCCI အသင်းချုပ်တွင် ၁၃၇၁ ခုနှစ်၊ ဦးတန်ခူးလပြည့်ကျော် လ၊ ၁၄ ရက်၊ ၂၀၀၉ ခုနှစ်၊ ဧပြီ လ၊ ၂၃ ရက်မှစ၍ အသင်းဝင်အမှတ် ၁၈၃၉၃ ဖြင့် အသင်းဝင်ထားသည့်အဖွဲ့အစည်း/ပုဂ္ဂိုလ်အသင်းဝင်တစ်ဦးဖြစ်ပါကြောင်း။

7. The above-mentioned enterprise/individual is a member of the UMFCCI with the membership number 18393 dated 23rd (day) April (month) 2009 (year)

အထွေထွေအတွင်းရေးမှူး/Secretary General

ဥက္ကဋ္ဌ/President

Specimen Signature of
the member (or) the representative

013834

| Extended period of membership registration | | | | Signature, name and designation of authorized person |
|---|---|---|---|---|
| (1) | From 1-1-2009 | to | 31-12-2010 (For two years) | Dr. Pwint San<br>Joint Secretary General |
| (2) | From | to | | |
| (3) | From | to | | |

# မြန်မာနိုင်ငံအထည်ချုပ်လုပ်ငန်းရှင်များအသင်း
# MYANMAR GARMENT MANUFACTURERS ASSOCIATION

၂၉၊ မင်းရဲကျော်စွာလမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။




## အသင်းဝင်လက်မှတ်
## ( ၂၀၁၀ ခုနှစ်)

..................ဦးသန်းနိုင်ဦး (Lead Fashion Industry Co., Ltd. )..................

အမျိုးသားမှတ်ပုံတင်အမှတ်........၁၂/အစန(နိုင်) ဝ၉၈၃၃၄.................................. သည်

မြန်မာနိုင်ငံအထည်ချုပ်လုပ်ငန်းရှင်များအသင်းတွင် ၁၃၇၂.........ခုနှစ်၊ ......ကဆုန်.........................လ၊

လဆုတ်.......၇...... ရက် (~~၂၀~~...၂၀၁၀.....ခုနှစ်၊ ..............မေ...............................လ၊....၄..........ရက်နေ့)

အသင်းဝင်အမှတ် .......၁၉၃....................... ဖြင့် မြန်မာနိုင်ငံအထည်ချုပ်လုပ်ငန်းရှင်များအသင်း၏

အသင်းသားတစ်ဦး ဖြစ်ပါကြောင်း။

အတွင်းရေးမှူး

ဥက္ကဋ္ဌ

000012

..................................................

အသင်းသား (သို့မဟုတ်)
ငင်းကိုယ်စားလှယ်၏
နမူနာလက်မှတ်

# FORM VI




## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 9th of FEBRUARY 2009

on the of 200 of the * LEAD FASHION INDUSTRY CO.,LTD.

Made pursuant to Section 104 (1)

| | | |
|---|---|---|
| Number of the shares allotted payable in cash | ..... | 5000 SHARES |
| " " " " | ..... | |
| Nominal amount of the shares so allotted | ..... | KS.50,000,000/- |
| " " " " | ..... | |
| Amount paid or due and payable on each such share | ..... | KS.10,000/- (FULLY PAID UP) |
| " " " " | ..... | |

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

---

**NOTE**: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.





FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act See Section 87)

Name of Company : LEAD FASHION INDUSTRY CO.,LTD. Presented by : U THAN NAING OO.

| The present christian name or names or surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U THAN NAING OO | MYANMAR<br>12/AH SA NA(NAING)<br>098374 | 5-ROOM BUILDING,1st STREET,SINT NGU WARD,<br>INSEIN TOWNSHIP,YANGON. | MERCHANT | APPOINTED AS MANAGING DIRECTOR<br>w.e.f 9.2.2009 |
| 2. U AUNG TINT LWIN | MYANMAR<br>12/AH SA NA(NAING)<br>131674 | NO.(H/119),KAN OO KYAUNG STREET,PHAW KAN<br>WARD,INSEIN TOWNSHIP,YANGON. | MERCHANT | APPOINTED AS DIRECTOR<br>w.e.f 9.2.2009 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of and by [illegible] against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry

Dated this 9.2.2009




Signature

Designation Managing Director
Lead Fashion Industry Co., Ltd.

Signature



Approved

Signature Requirement:

Account No: 0232006482

Name: U THAN NAING OO

NRC No: 12/AHSANA [N] - 098374

Father's Name:

103[illegible]40

Address: NO-42 ,ROOM(5) TWE , ( 1 ) ST;SINTNGU QR ,INSEIN TSP PH-095052651



C B BANK
CO-OPERATIVE BANK LTD.

Special Instructions

| | Date | Ref. | Deposit | Withdrawal | Balance | Signature & Bank Stamp |
|---|---|---|---|---|---|---|
| 01 | 01-02-10 | CD | 10,000.00 | - | 10,000.00 | CB BANK |
| 02 | 16-03-10 | CD | 5,000,000.00 | | 5,010,000.00 | CB BANK |

CB BANK

CB BANK

CB BANK

PLEASE CHECK ALL ENTRIES BEFORE LEAVING THE COUNTER

- ၂ (2) -



တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ ဓာတ်ပုံ
ATTORNEY HOLDER PHOTO



တရားဝင်ကိုယ်စားလှယ်အလွှဲခံရသူ၏အကြောင်းအရာ
PARTICULARS OF ATTORNEY HOLDER

၁။ အမည်
NAME

၂။ မှတ်ပုံတင်အမှတ်
REGISTRATION NO.

၃။ အလုပ်အကိုင်
OCCUPATION

၄။ နေရပ်လိပ်စာ
ADDRESS

၅။ တယ်လီဖုန်းအမှတ်
TELEPHONE NO.

ဤစာအုပ်တွင် စာမျက်နှာ (၃၂) ပါဝင်ပါသည်။
THIS PASSBOOK CONSISTS OF (32) PAGES.

- ၃ (3) -

New A/c

စာရင်းအမှတ် FDL 10.0254
ACCOUNT NO.



စာရင်းပိုင်ရှင်၏ဓာတ်ပုံ
ACCOUNT HOLDER PHOTO



စာရင်းပိုင်ရှင်၏ အကြောင်းအရာ
PARTICULARS OF ACCOUNT HOLDER

Lead Product Industry Co., Ltd

၁။ အမည် U Than Naing Oo
NAME

၂။ မှတ်ပုံတင်အမှတ် 12/Ahsana (N) 098374
REGISTRATION NO.

၃။ အလုပ်အကိုင် Managing Director
OCCUPATION

၄။ နေရပ်လိပ်စာ No. 5, Rm, Bldg - 1 - 24, Plot
ADDRESS Ngu Ward, Insein Tsp, Ygn

၅။ တယ်လီဖုန်းအမှတ်
TELEPHONE NO.

2 APR 2009

30/3/09

ထုတ်ပေးသည့်ရက်စွဲ
DATE OF ISSUE

မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်

MYANMA INVESTMENT AND COMMERCIAL BANK

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | | ထုတ်ငွေ WITHDRAWAL | | လက်ကျန်ငွေ BALANCE US. $ | | လက်မှတ် |
|---|---|---|---|---|---|---|---|---|---|
| | 24.3.09 | By FEC | 100 | - | | | 100 | - | MICB |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |
| | | | | | | | | | |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

ထိပ်တန်း ပုံစံထုတ် ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

LEAD FASHION INDUSTRY COMPANY LIMITED

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

**ဓာတ်ပတန်း ပုံနှိပ်ထုတ်** **ကုမ္ပဏီ လီမိတက်**

၏

**သင်းဖွဲ့မှတ်တမ်း**



၁။ ကုမ္ပဏီ၏ အမည်သည် " **ဓာတ်ပတန်း ပုံနှိပ်ထုတ်** ကုမ္ပဏီ လီမိတက် "ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မ.တည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /-(ကျပ် သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀/-(ကျပ် တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များ နှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ အာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ အာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း။

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ အာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း။

(င) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစာအစာများထုတ်လုပ်ခြင်း။

(စ) ✓လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဇ) ✓ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း။

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း။

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဌ) ✓လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဍ) ✓အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း။

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်။

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန်လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးသန်းနိုင်ဦး<br>၅ခန်းတွဲ၊ ၁-လမ်း၊ စဉ့်ငှုရပ်ကွက်၊<br>အင်းစိန်မြို့နယ်၊ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/အစန(နိုင်)<br>၀၉၈၃၇၄ | ၃၀၀၀ | |
| ၂။ | ဦးအောင်တင့်လွင်<br>အမှတ်(၈/၁၁၉)၊ ကံဦးကျောင်းလမ်း၊ဖေါ့ကန်ရပ်ကွက်၊အင်းစိန်မြို့နယ်၊ရန်ကုန်တိုင်း။<br>(ကုန်သည်) | မြန်မာ<br>၁၂/အစန (နိုင်)<br>၁၃၁၆၇၄ | ၂၀၀၀ | |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀၉ ခုနှစ်၊ ဇန်နဝါရီလ၊ ၁၆ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Daw Cho Coo [illegible] C.P.A.
Certified Public Accountant

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ထိပ်တန်း ပိုစ့်ထုတ် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၅၀၀,၀၀၀,၀၀၀ /-(ကျပ် - သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ် - တစ်သိန်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော ဟရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည် -

(၁) ဦးသန်း နိုင်ဦး

(၂) ဦး အောင်တင့်လွင်

(၃)

(၄)

(၅) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်၊ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဘဏ္ဍာပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

